ကန့်သတ်

ကုမ္ပဏီအမည် - SKP Inter Food Co.,Ltd.

လုပ်ငန်း - ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် SKP Inter Food Co.,Ltd. တည်ထောင်၍ ပြောင်းဖူးမုန့်၊ ပုဇွန်မုန့် နှင့် မုန့်မျိုးစုံ ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာ ခြင်း ကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၂၈-၃-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း<br>(က) စက်မှုဝန်ကြီးဌာန<br>(ခ) သယံဇာတနှင့်သဘာဝပတ်ဝန်း ကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန<br>(ဂ) ရန်ကုန်တိုင်း ဒေသကြီး အစိုးရ အဖွဲ့<br>(ဃ) ကျန်းမာရေးဝန်ကြီးဌာန | <br>၂၇-၄-၂၀၁၆<br>၂၆-၄-၂၀၁၆<br><br>၂၇-၄-၂၀၁၆<br><br>၂၇-၄-၂၀၁၆ | <br>၁၇-၅-၂၀၁၆<br>၈-၆-၂၀၁၆<br><br>၂၂-၈-၂၀၁၆<br><br>၁၆-၅-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၁၄/၂၀၁၆) သို့ တင်ပြခြင်း | ၄-၄-၂၀၁၆ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၅-၄-၂၀၁၆ | | |
| ၅ | မြေအသုံးပြုခွင့် တင်ပြခြင်း<br>(က) ကော်မရှင် အစည်းအဝေး (၆/၂၀၁၆) သို့ တင်ပြခြင်း<br>(ခ) ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြရန် ဆောင်ရွက်ဆဲ ဖြစ်ပါသည်။ | | | |
| ၆ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၈)စုံ လက်ခံရရှိ | | | |
| ၇ | **စုစုပေါင်း ကြာမြင့်ရက်** | ၁၇၅ | | |

ကန့်သတ်

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | SKP Inter Food Co.,Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | ပြောင်းဖူးမုန့်၊ ပုဇွန်မုန့် နှင့် မုန့်မျိုးစုံ ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - | အကွက်အမှတ်(၂၀၅-၂၀၈) မြေတိုင်းရပ်ကွက်အမှတ်(၁၄၄)၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | အမေရိကန်ဒေါ်လာ ၁.၃၉ သန်း |
| လုပ်ငန်းသက်တမ်း | - | ကနဦး (၃၀)နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| အရင်းကြေကာလ | - | ၄ နှစ် ၆ လ |
| IRR | - | ၁၅.၂၆% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၁.၆၈ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၅၇.၄၈ | - |
| ၄ | ဝင်ငွေခွန် | ၈၆၁.၂၈ | ၁၅၉၈.၅၃ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၉၇၇.၉၃ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၆၄၂.၁၈ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၂%) | | ၁၄၅.၆၃ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၇၀ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| ၁၀ | စုစုပေါင်း | ၉၂၀.၄၄ | ၃၃၆၄.၉၀ |
| ၁၁ | Cost : Benefit | ၁ : ၄ | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် SKP Inter Food Co.,Ltd. တည်ထောင်၍ ပြောင်းဖူးမုန့်၊ပုဇွန်မုန့် နှင့် မုန့်မျိုးစုံ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - ဒေါ်ဆုဝေနှင်း |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | | - Paiboon Products Co.,Ltd (၅၅%) (ထိုင်းနိုင်ငံ) |
| | | - Su Myat Mingalar Trading Co.,Ltd (၄၅%)၊ (မြန်မာနိုင်ငံ) |
| | လုပ်ငန်းအမျိုးအစား | - ပြောင်းဖူးမုန့်၊ ပုဇွန်မုန့် နှင့် မုန့်မျိုးစုံ ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | -မြေကွက်အမှတ်(၂၀၅+၂၀၈)၊ မြေတိုင်းရပ်ကွက် အမှတ် (၁၄၄)၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဒေါ်ကြည်ကြည်စိန် |
| | မြေအကျယ်အဝန်း | - မြေဧရိယာ (၀.၅၀၉)ဧက(၂၂၂၀၀ စတုရန်းပေ) |
| ၃။ | မြေနှင့်အဆောက်အဦ ငှားရမ်းခနှုန်း | - တစ်နှစ်ငှားရမ်းခ USD ၁၀၂၉၉.၂၅ (တစ်နှစ် တစ်စတုရန်းမီတာ USD ၅) |
| | မြေငှားရမ်းကာလ | - ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀ နှစ် |
| ၄။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - US$ ၁.၃၉ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | US $ (သန်း) |

| | ပြည်ပ (US$) | ပြည်တွင်း (US$) | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၀.၂၈ | ၀.၂၈ | ၀.၅၆ |
| စက်ပစ္စည်းများ | ၀.၄၂ | ၀.၁၈ | ၀.၆၀ |
| အသုံးစရိတ် | ၀.၀၄ | | ၀.၀၄ |
| ဓာတ်ခွဲခန်းသုံးပစ္စည်း | ၀.၀၂ | | ၀.၀၂ |
| ကုန်ကြမ်းပစ္စည်း | - | ၀.၁၀ | ၀.၁၀ |

| | | | | |
|---|---|---|---|---|
| | ကုန်ကြမ်းပစ္စည်း | - | ၀.၁၀ | ၀.၁၀ |
| | စက်ရုံသုံးပစ္စည်း | | ၀.၀၁ | ၀.၀၁ |
| | ရုံးသုံးပစ္စည်း | | ၀.၀၅ | ၀.၀၅ |
| | မြေငှားရမ်းခ | | ၀.၀၁ | ၀.၀၁ |
| | **စုစုပေါင်း** | **၀.၇၆** | **၀.၆၃** | **၁.၃၉** |

၆။ ဝန်ထမ်းအင်အား - ၂၀၇ ဦး

ပြည်တွင်း - ၂၀၀ ဦး (အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၁,၅၀၀,၀၀၀ ဖြစ်ပါသည်။)

ပြည်ပ - ၇ ဦး (အနိမ့်ဆုံးလစာမှာ US$ ၂၀၀၀ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၅၀၀၀ ဖြစ်ပါ သည်။)

၇။ ရောင်းချမည့်စနစ် - ပြည်တွင်း ၁၀၀%

နှစ်စဉ်ထုတ်လုပ်မှု(ဆင္ဌမမြောက်နှစ်)

| ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Ton) | ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|
| Prawn Cracker | ၉၅၉၄ | ၁၂၅,၀၀၀ |
| Corn Snack Milk Flavor | ၉၉၂၄ | ၁၁၀,၀၀၀ |
| Corn Snack Chocolate | ၉၉၂၄ | ၁၁၀,၀၀၀ |

၈။ ကုမ္ပဏီ၏ ဝင်ငွေ (ဆင္ဌမမြောက်နှစ်) - US$ ၂.၈၂ သန်း

အသုံးစရိတ် - US$ ၂.၂၈ သန်း

အသားတင်အမြတ် - US$ ၀.၅၄ သန်း

၉။ နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆင္ဌမမြောက်နှစ် )

ဝင်ငွေခွန် - US$ ၀.၁၈သန်း

ကုန်သွယ်လုပ်ငန်းခွန် - US$ ၀.၁၄သန်း

| | | |
|---|---|---|
| | အရင်းကြေကာလ | - ၄ နှစ် နှင့် ၆ လ |
| | အရင်းအနှီးအပေါ်အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၅.၂၆% |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ဆဌမမြောက်နှစ်) | - ၂၅၈၁၂၄ kWh |
| ၁၁။ | အခြားတင်ပြချက် | ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ Kanbawza Bank တွင် ဒေါ်ကြည်ကြည်စိန်၊ ဒေါ်ဆုဝေနှင်း အမည်ဖြင့် ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၅ ရက်နေ့ ရက်စွဲဖြင့် မြန်မာကျပ်ငွေ ၃၃၆,၈၈၄,၉၈၉.၄၁ နှင့် ထိုင်းနိုင်ငံရှိ OMNOI BRANCH တွင် PAIBOON PRODUCT CO., LTD အမည်ဖြင့် ၁၈-၁-၂၀၁၆ ရက်နေ့ ရက်စွဲဖြင့် ဘတ်ငွေ ၃၈,၁၀၂,၁၉၉.၃၂(US$ ၁,၀၄၉,၂၄၂.၇၀) နှင့် ဒါရိုက်တာအဖွဲ့ဝင်များ၏ Passport မိတ္တူများ နှင့် နိုင်ငံသား မှတ်ပုံတင်မိတ္တူများကို တင်ပြ ထားပါသည်။<br>-ကုမ္ပဏီ မှတ်ပုံတင်၊ MOA, AOA (မိတ္တူ)များ တင်ပြ ထားပါသည်။<br>-ဒါရိုက်တာအဖွဲ့ဝင်များ၏မှတ်ပုံတင် မိတ္တူတင်ပြထားပါ သည်။<br>-စက်ရုံ၏တည်နေရာပြမြေပုံ နှင့် Layout Plan များကို တင်ပြထားပါသည်။<br>-လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ Waste Water Treatment Plant တပ်ဆင်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း ကတိဝန်ခံချက် ၊ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြ ထားပါသည်။ |

ကန့်သတ်

၆

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၂/ န-၁၄၈ /၂၀၁၆ ( ၆၉၂ )
ရက်စွဲ ၊၂၀၁၆ ခုနှစ် စက်တင်ဘာလ ၁၅ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် SKP Inter Food Co.,Ltd. တည်ထောင်၍ ပြောင်းဖူးမုန့်၊ပုဇွန်မုန့် နှင့် မုန့်မျိုးစုံ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံမှ Su Myat Mingalar Trading Co.,Ltd. (၄၅%) နှင့် ထိုင်းနိုင်ငံမှ Paiboon Products Co.,Ltd.(၅၅%) တို့ အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် SKP Inter Food Co.,Ltd တည်ထောင်၍ မြေကွက်အမှတ်(၂၀၅+၂၀၈)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄၄)၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး မြေဧရိယာ စုစုပေါင်းဧက ၀.၅၀၉ (၂၀၅၉.၈၅ စတုရန်းမီတာ) တို့ကို ငှားရမ်း၍ ပြောင်းဖူးမုန့်၊ ပုဇွန်မုန့် နှင့် မုန့်မျိုးစုံထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြ လာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဒေါ်ကြည်ကြည်စိန်နှင့် SKP Inter Food Company Limited တို့ကြား ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း) နှင့် ထိုင်းနိုင်ငံမှ Paiboon Products Co.,Ltd နှင့် မြန်မာနိုင်ငံမှ Su Myat Minglar Trading Co.,Ltd တို့ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း) နှင့် မြေအထောက်အထားများ၊ အဆောက်အဦဓာတ်ပုံ စသည်တို့ကို တင်ပြထားပါသည်။

၃။ လုပ်ငန်း ဆောင်ရွက်မည့်နေရာဖြစ်သော ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် တောင်ပိုင်းမြို့နယ်၊ မြေ (၀.၅၀၉)ဧက အား တစ်နှစ်တစ်စတုရန်း မီတာလျှင် (US$ ၅.၀၀) နှုန်းဖြင့် ကုမ္ပဏီသို့ ငှားရမ်းမည်ဖြစ်ပါသည်။ တစ်နှစ်ငှားရမ်းခမှာ US$ ၁၀၂၉၉.၂၅ ဖြစ်ပါ သည်။

ကန့်သတ်

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ မှာ ၂နှစ် ဖြစ်ပါ သည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ၁.၃၉သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

US $ (သန်း)

| စဉ် | | ပြည်ပ | ပြည်တွင်း | စုစုပေါင်း |
|---|---|---|---|---|
| (က) | ငွေသား | ၀.၂၈ | ၀.၂၈ | ၀.၅၆ |
| (ခ) | စက်ပစ္စည်းများ | ၀.၄၂ | ၀.၁၈ | ၀.၆၀ |
| (ဂ) | အသုံးစရိတ် | ၀.၀၄ | - | ၀.၀၄ |
| (ဃ) | ဓာတ်ခွဲခန်းသုံးပစ္စည်း | ၀.၀၂ | - | ၀.၀၂ |
| (င) | ကုန်ကြမ်းပစ္စည်း | - | ၀.၁၀ | ၀.၁၀ |
| (စ) | စက်ရုံသုံးပစ္စည်း | - | ၀.၀၁ | ၀.၀၁ |
| (ဆ) | ရုံးသုံးပစ္စည်း | - | ၀.၀၅ | ၀.၀၅ |
| (ဇ) | မြေငှားရမ်းခ | - | ၀.၀၁ | ၀.၀၁ |
| | **စုစုပေါင်း** | **၀.၇၆** | **၀.၆၃** | **၁.၃၉** |

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၂၀၀)ဦး နှင့် ပြည်ပ (၇) ဦး စုစုပေါင်း (၂၀၇)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၁,၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၂၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၅၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ပစ္စည်းများကို ပြည်တွင်း၌ ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှု နှင့် ရောင်းချမှု ဈေးနှုန်းမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| စဉ် | ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှုအရေအတွက် (Ton) | ရောင်းဈေးနှုန်း (Kyat/Ton) |
|---|---|---|---|
| (က) | Prawn cracker | ၉၅၉၄ | ၁၂၅,၀၀၀ |
| (ခ) | Corn snack milk Flavor | ၉၉၂၄ | ၁၁၀,၀၀၀ |
| (ဂ) | Corn snack chocolate | ၉၉၂၄ | ၁၁၀,၀၀၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | US $ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၂.၈၂ သန်း |
| (ခ) | အသုံးစရိတ် | - | ၂.၂၈ သန်း |
| (ဂ) | အသားတင်အမြတ် | - | ၀.၅၄ သန်း |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုး အမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၁၈ သန်းနှင့်ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၀.၁၄ သန်းတို့ ဖြစ်ပါသည်။ လုပ်ငန်း ၏ အရင်းကြေကာလမှာ ၄ နှစ် ၆ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ် နှုန်း(IRR) မှာ ၁၅.၂၆% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာတစ်ဒေါ်လာလျှင် ၁၂၀၀ ကျပ်နှုန်း ဖြင့် တွက်ချက် ထား ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ ၊ ကျန်းမာရေးဝန်ကြီးဌာန နှင့် စက်မှုဝန်ကြီးဌာနတို့သို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါ အတိုင်း သဘောထားပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးမှ** အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိပါကြောင်းသဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ လုပ်ငန်းများရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်း ဆုံးဖြစ်စေရန် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) ဆောင်ရွက်ပြီး ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ် ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့် အညီ အစီရင်ခံစာ ရေးသားတင်ပြရန်၊ ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ် စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီ

အစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံ ခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါး ရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံ ခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင် အထည်ဖော် ဆောင်ရွက်ရန်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များ နှင့်အညီ စည်းမျဉ်းစည်းကမ်း နှင့် ညွှန်ကြား ချက်များကို တိကျစွာ လိုက်နာဆောင် ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြား ထားပါသည်။ **(ကုမ္ပဏီမှကနဦး ပတ်ဝန်းကျင် ဆန်းစစ် ခြင်း အစီအစဉ် (IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (EMP) တို့ကို ဆောင်ရွက် သွားမည် ဖြစ်ကြောင်း တင်ပြထားပါ သည်။)** **(နောက်ဆက်တွဲ-ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှု လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန်၊ မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် နှင့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု အစီအမံ (CSR) အတွက် လုပ်ငန်းမှ ရရှိသော အသားတင်အမြတ်ငွေ၏ ၁% သုံးစွဲရန်နှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန်၊ ကုန်ကြမ်း ပစ္စည်းများ၏ အရည်အသွေးနှင့် ထည့်သွင်းအသုံးပြုမည့် အချိုးအစား ပမာဏမှာ အစား အသောက် နှင့် ဆေးဝါးကွပ်ကဲရေး ဦးစီးဌာန၏ အမိန့်၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရန် လိုအပ်ပါကြောင်းနှင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြား ထားပါသည်။ **[စက်မှုဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ကုမ္ပဏီမှ လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ပါ ကြောင်း နှင့် ဆောင်ရွက်ထားရှိမှုကို ဆက်လက် တင်ပြ သွားမည်ဖြစ်ကြောင်း ဝန်ခံ ကတိတင်ပြထားပါသည်။]**

**(နောက်ဆက်တွဲ - ဂ)**

(ဃ) **ကျန်းမာရေးဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိပါကြောင်းသဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-ဃ)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ Kanbawza Bank တွင် ဒေါ်ကြည်ကြည်စိန်၊ ဒေါ်ဆုဝေနှင်း အမည်ဖြင့် ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၅ ရက်နေ့ ရက်စွဲဖြင့် မြန်မာကျပ်ငွေ ၃၃၆,၈၈၄,၉၈၉.၄၁ နှင့် ထိုင်းနိုင်ငံရှိ OMNOI BRANCH တွင် PAIBOON PRODUCT CO.,LTD အမည်ဖြင့် ၁၈-၁-၂၀၁၆ ရက်နေ့ ရက်စွဲဖြင့် ဘတ်ငွေ ၃၈,၁၀၂,၁၉၉.၃၂ (US$ ၁,၀၄၉,၂၄၂.၇၀) ရှိကြောင်း နှင့် ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများ နှင့် နိုင်ငံသား မှတ်ပုံတင်မိတ္တူများ ကို တင်ပြထားပါသည်။

၁၂။ SKP Inter Food Company Limited မှ တည်နေရာပြမြေပုံ၊ လုပ်ငန်း သဘောသဘာဝ ရှင်းလင်းချက်၊ ရေနှင့် လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့် အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက် အစီအစဉ်၊ လုပ်ငန်းခွင် သာယာရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့် လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှု၊ ဝန်ထမ်းများအတွက် ကျန်းမာရေး၊ လူမှုရေး စောင့်ရှောက် ထားရှိမည့် အစီအစဉ်များ ကတိဝန်ခံချက်တို့ကို တင်ပြထားပါသည်။

၁၃။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အမြတ်ငွေ၏ ၂% ကို Cooperate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထား ပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် မတ်လ ၄ ရက်နေ့တွင် ကျင်းပသော ၁၄/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၆။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခွင့် ပြုရန်ကိစ္စကို ကော်မရှင်၏ ၆/၂၀၁၆ ကြိမ်မြောက် အစည်းအဝေး နှင့် ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက် တင်ပြထားပါသည်။ ပြည်ထောင်စု အစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင် ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် SKP Inter Food Co.,Ltd. တည်ထောင်၍ ပြောင်းဖူးမုန့်၊ ပုဇွန်မုန့် နှင့် မုန့်မျိုးစုံ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | SKP INTERFOOD Company Limited | Paiboon Product Co.,Ltd<br>Represented by: | |
| | | (၁) Mr.Paiboon Pattanawanitkituun<br>Director<br>Thailand<br>PP No. AA 4798396 | 410 SOI chareon krung 65 Yannawa Sathorn Bangkok 10120 Thailand Business Man |
| | | (၂) Ms Khawanchil- Yangyuen<br>Director<br>Thailand<br>PP No.AA 963156 | (38/55 Moo3 ommi kratumban Samutdakorn 74130 Thailand) Business Man |
| | | (၃) Ms Nipaporn Veeravattanams<br>Director<br>Thailand<br>PP No.AA 2681345 | 55 Moo 15 Bangwa Phasri chareon Bankok 10160 Thailand Business Man |
| | | Su Myat Minglar Trading Co.,Ltd<br>Represrnted by; | |
| | | (၁) U Myint Han<br>Director<br>Myanmar<br>12/ ka Ta Ta (Naing)020592 | No,C 6 Maykka Wodi Street Maykka Garden Housing Thingangyun Yangon. Business man |
| | | (၂) Daw Su Wai Hnin<br>12/ Pa Za Ta(Naing)034739 | No,C 6 Maykka Wodi Street Maykka Garden Housing Thingangyun Yangon. Business man |

| | | |
|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - ၀၉- ၇၉၈၄၄၈၂၄၄ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - တိုက်(၁၂၂)(၅၂)၊ အမှတ်(၁)လမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဒေါ်ဆုဝေနှင်း ဒါရိုက်တာ |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - ပြောင်းဖူးမုန့်၊ ပုဇွန်မုန့်နှင့် မုန့်မျိုးစုံထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - - |

MIC, 272/2018

(နောက်ဆက်တွဲ-က)

တိုင်းဒေသကြီးအစိုးရအဖွဲ့ စာအမှတ် ၄၇၃၁၆ ရက်စွဲ ၁၆.၈.၁၈ ရန်ကုန်တိုင်းဒေသကြီး

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၇. ၄. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၂/ န-၁၄၈/၂၀၁၆(၃၆၃)

၁။ မြန်မာနိုင်ငံမှ Su Myat Mingalar Trading Co., Ltd. (၄၅%)နှင့် ထိုင်းနိုင်ငံမှ Paiboon Products Co., Ltd. (၅၅%)တို့ အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် SKP Inter Food Co., Ltd. တည်ထောင်၍ အကွက်အမှတ်(၂၀၅+၂၀၈)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄၄)၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊ မြေဧရိယာစုစုပေါင်း ဧက ၀. ၅၀၉ (၂၀၅၉. ၈၅ စတုရန်းမီတာ)တို့ကို ငှားရမ်း၍ ပြောင်းဖူးမုန့်၊ ပုဇွန်မုန့်နှင့် မုန့်မျိုးစုံတို့ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမျိုး၊ တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
SKP Inter Food Co., Ltd.
လက်ခံစာတွဲ/မျှောစာတွဲ

D/2016/Lesson(MIC),(32)

(နောက်ဆက်တွဲ-ခ)

MIC, 203/916

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁( ၁၇၁ / ၁၆ )
ရက် စွဲ ၊၂၀၁၆ခုနှစ် ဇွန် လ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **SKP Inter Food Co.,Ltdမှ ပြောင်းဖူးမုန့်၊ ပုဇွန်မုန့်နှင့်မုန့်မျိုးစုံ ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆-၄-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၂/ န-၁၄၈/ ၂၀၁၆(၃၆၀)

၁။ မြန်မာနိုင်ငံမှSu Myat Mingalar Trading Co.,Ltd(၄၅%)နှင့်ထိုင်းနိုင်ငံမှPaiboon Products Co.,Ltd (၅၅%)တို့ အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် SKP Inter Food Co.,Ltd တည်ထောင်၍ အကွက်အမှတ်(၂၀၅+၂၀၈)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄၄)၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊ မြေဧရိယာစုစုပေါင်း ဧက ၀.၅၀၉(၂၀၅၉.၈၅စတုရန်းမီတာ) တို့ကိုငှားရမ်း၍ ပြောင်းဖူးမုန့်၊ ပုဇွန်မုန့်နှင့်မုန့်မျိုးစုံထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၃၀)နှင့်(၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ ထုတ်လုပ်မှုအနေဖြင့်ပထမနှစ်တွင်ပြောင်းဖူးမုန့်၊ ပုဇွန်မုန့် ၂၃၀၆၈ တန်မှ (၆)နှစ်အတွင်း ၂၉၄၄၂ တန်အထိ တိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသာယာချောင်ချိရေးစီမံချက်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%)ကိုလူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility-CSR)လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ လုပ်ငန်းမှထွက်ရှိလာသော စွန့်ပစ်အရည်များ၊ အခိုးအငွေ့များ၊ အနံ့အသက်များ၊ အမှုန်များအား သတ်မှတ်စံချိန်စံညွှန်းများနှင့်အညီ စွန့်ပစ်သွားမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုနှင့်လူမှုရေး၊ ကျန်းမာရေးထိခိုက်မှုမရှိစေရန် စနစ်တကျစီစဉ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများအားလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ SKP Inter Food Co.,Ltd မှ ပြောင်းဖူးမုန့်၊ ပုဇွန်မုန့်နှင့်မုန့်မျိုးစုံထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းများဆောင်ရွက်ခြင်းကြောင့် ထွက်ရှိလာမည့်စွန့်ပစ်အရည်များ၊ စွန့်ပစ်ပစ္စည်းများ၊ အခိုးအငွေ့များကြောင့်မြေထု၊ လေထု၊ ရေထုညစ်ညမ်းခြင်း၊ ထုပ်ပိုးပစ္စည်းများသည် ပလပ်စတစ်ကိုအခြေခံသည့်ပစ္စည်းများဖြစ်၍ ဆွေးမြေ့ပျက်စီးရန်အချိန်ကြာမြင့်ပြီး၊ မြေဆီလွှာထိခိုက်ပျက်စီးခြင်း၊ ကုန်ကြမ်းပစ္စည်းများအား စနစ်တကျသိုလှောင်မှုမရှိပါက အနံ့အသက်များထွက်ရှိခြင်းနှင့် ကုန်ချောထုတ်လုပ်ရာတွင် ညှော်နံ့များထွက်ရှိခြင်း၊ ထုတ်လုပ်ခြင်း၊ ထုတ်ပိုးခြင်း လုပ်ငန်းအဆင့်များတွင်စက်များကိုအသုံးပြုဆောင်ရွက်ရမည်ဖြစ်သဖြင့် အသံဆူညံခြင်း၊ ပတ်ဝန်းကျင်ရှိပြည်သူလူထုအား အနှောက်အယှက်ဖြစ်စေခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ SKP Inter Food Co.,Ltd မှ ပြောင်းဖူးမုန့်၊ ပုဇွန်မုန့်နှင့်မုန့်မျိုးစုံထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility-CSR)အတွက် အသားတင်အမြတ်ငွေ၏ (၂%)အားအသုံးပြုခြင်းအပါအဝင်ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မ

ဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း** ( Environmental Impact Assessment-EIA)ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည့်တို့ ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** ( Environmental Management Plan – EMP )ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

(နောက်ဆက်တွဲ-ဂ)

C. 190
2015

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၆-၂၀၁၇(၃၂၉)

ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ မေလ ၁၂ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇.၄.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၄၈ / ၂၀၁၆ (၃၆၄)

၁။ SKP Inter Food Co.,Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄၄)၊ အကွက်အမှတ်(၂၀၅+၂၀၈)တွင် ပြောင်းဖူးမုန့်၊ ပုဇွန်မုန့်နှင့် မုန့်မျိုးစုံထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ပြောင်းဖူးမုန့်၊ ပုဇွန်မုန့်နှင့် မုန့်မျိုးစုံထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှုအစီအမံ(CSR)အတွက် လုပ်ငန်းမှရရှိသော အသားတင်အမြတ်ငွေ၏ ၁% သုံးစွဲရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

( င) ကုန်ကြမ်းပစ္စည်းများ၏ အရည်အသွေးနှင့် ထည့်သွင်းအသုံးပြုမည့် အချိုးအစား ပမာဏမှာ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ အမိန့်၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

(စ) စက်ပစ္စည်းစာရင်း တင်ပြချက် သင့်လျော်မှု ရှိပါသည်။

၃။ သို့ပါ၍ SKP Inter Food Co.,Ltd. မှ ပြောင်းဖူးမုန့်၊ ပုဇွန်မုန့်နှင့် မုန့်မျိုးစုံထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၇.၅.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်း

MIC, 193/2315

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ (နောက်ဆက်တွဲ-ဃ)

ကျန်းမာရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၈မခ(က)၂၀၁၆/၁၈၀၁

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မေလ( ၁၆ )ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ညှိနှိုင်းပြန်ကြားခြင်း။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၇-၄-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၂/န-၁၄၈/၂၀၁၆(၃၆၅)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံမှ Su Myat Mingalar Traing Co.,Ltd (၄၅%)နှင့် ထိုင်းနိုင်ငံမှ Paiboon Products Co.,Ltd. (၅၅%)တို့ အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စက်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် SKP Inter Food Co.,Ltd တည်ထောင်၍ အကွက်အမှတ်(၂၀၅+၂၀၈)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄၄)၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး မြေဧရိယာစုစုပေါင်းဧက ၀.၅၁၉(၂၀၅၉.၈၅ စတုရန်းမီတာ) တို့ကို ငှားရမ်း၍ ပြောင်းဖူးမုန့်၊ ပုဇွန်မုန့်နှင့် မုန့်မျိုးစုံထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခဲ့ပါသဖြင့် သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိပါကြောင်း ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ပါမောက္ခဒေါက်တာသက်ခိုင်ဝင်း၊ အမြဲတမ်းအတွင်းဝန်)

Miniser(2016)zch